**24. TERMINATION**

Unless otherwise specified in other provisions hereof, this Agreement may be terminated on the occurrence of one of the following events; -

(1) Agreement in writing between both parties to terminate;
(2) Substantial and continuous losses to the Company;
(3) Breach of the conditions of the Agreement by either party to the same;
(4) Incapability of implementing the original aims and objective of the Company.

| | |
|---|---|
| For and on behalf of; | For and on behalf of; |
| Party A | Party B |
| ---------------------- | ----------------------- |
| Mr. Hung Chi Wai | Daw Yin Lee Yint @ LiLi San |
| Passport No. KJ0542829 | 13/MaSaTa(Pyu)000052 |
| **WITNESSES** | **WITNESSES** |
| Sign ……………………………………. | Sign ………………...………………. |
| Name ……………………………………. | Name……………………………………. |
| Address ………………………………. | Address ………………………………. |

To:

The Director General
Directorate of Investment and Company Administration
The Government of the Republic of the Union of Myanmar
No. 1, Thitsar Road, Yankin Township, Yangon.

Date: 28 / 7 /17

**Re: Application to check availability of company name for foreign company registration**

1. I wish to submit an application to confirm the availability of the following company name:

**Name in English:** ~~Myanmar Winner Garment Co., Ltd.~~ Myanmar Wide Garment Co., Ltd.

**Name in Myanmar:** ~~မြန်မာဝင်နာ ဂါးမန့် ကုမ္ပဏီလီမိတက်~~ မြန်မာဝိုက်ဒ် ဂါးမန့် ကုမ္ပဏီလီမိတက်

(*The proposed company name must be specified in both English & Myanmar*).

2. The contact details of the applicant are as listed below:

Name: Ms. Yin Lee Yint @ Li Li San

Company: Great World Wide Co., Ltd.

Address: No. (18-A), Rm- 3&4 (1st floor), Boyarnyunt Street, YawMinGyi Ward, Dagon T/S, Yangon.

Phone number: 09 - 420 115882

3. The business objectives and activities of the proposed foreign company are as listed below:

(i) To setup the garment factory as JV. (CMP/FOB manufacturing)

(ii)

(iii)

(iv)

(v)

(vi)

(vii)

(viii)

Signature of applicant: [signature]

Name: Sandar Aye

NRC (Myanmar) or Passport No. (and country) : 12/AuKaTa (N) 151419

# LEASE DEED OF LAND (Draft)

Date :  -  - 2017

This DEED is mutually signed between under-named persons in Hmawbi Township,Yangon Region, as below-

Lessor : **Daw Li Li San (alias) Daw Yin Lee Yint (13/Ma Sa Ta (Pyu) 000052)**

No.(75), Manawhari Street, Dagon Township, Yangon Region.

Lessee : Mr. Hung Chi Wai

**Grandford International Trading Limited**

Room A 1202, 12/F, Wing Cheung Industrial Building, 58-70 Kwai Cheong Road, Kwai Chung, N.T., Hong Kong.

(In the expression of Lessor and Lessee in this deed, themselves and their respective beneficiaries, lawful assignees and lawful heirs shall also be all inclusive.)

**1. Location of land and building leased**

The land known as plot No. (36 & 81 A), Myay Tine Block No. (521 A), Koe Lone Kwin Thandaybin Village, Mingalardon Township, Yangon Region, together with ( 2 ) buildings on the land including all enjoyable rights concerned. **(Total area about 5625 sqm =** 1.39 Acres**)**

**2. Lease period**

Lease period fixed by mutual consent is for (10) years only from  -  -2017 to  -  -2027. In wishing to keep hiring after the end of 10 years, it shall be coordinated for rental fees depending on current value of it.

**3. Rental fees**

Rental fees fixed per year by mutual consent for the factory area of 5625 sq/m is USD 3 - per sq/m per year from first year to tenth year (  -  -2017 to  -  -2022).

**4. Payment of rental fees**

Lessee admits to pay USD 16,875 for (first) year within (1) month from signing date of this deed. It is agreed with one another to pay rental fees for other years (1) month in advance before expiration of previous period.

**5. Liabilities of Lessee**

(a) The expenses such as business tax, commercial tax for leasing amount, meter charges, YCDC tax, water charges and other necessary payments concerning the land and building leased shall be paid by Lessee during lease period.

(b) Lessee shall not make sub-lease, mortgage, gift, or transfer the whole premise or a piece of it to any other one without any prior consent of Lessor during lease period.

(c) In the end of lease, Lessee has to leave the building constructed on the land and the building renovated during leasing period. The Lessee can only take back Lessee's invested movable properties after leasing period.

(d) Lessee shall not keep contrabands against the laws in the premise leased and shall not run any business restricted by law. If any case done against the laws takes place in any way, it shall be responsible to lessee, but not to Lessor and then Lessee is to

compensate for the loss of Lessor in such case. If Lessee fails to return the premise leased as original condition in the end of lease, Lessor shall have a right to lock it down and get back.

(e) Lessee admits not to keep any inflammable materials or anything against the laws in the premise leased.

(f) Lessee shall start the business operation after got the authorized documents by the concerned government.

(g) Lessee shall accept the inspection by lessor any time.

**6. Liabilities of lessor**

(a) Lessor leases her premise making admission that she is sole owner of it, that it is free from all encumbrances such as inheritable case, mortgage, sale of any other one, gift, release, donation, or insurance in any way.

(b) If any dispute concerning the premise leased takes place in future, Leesor admits to settle problems until the end on her own cost, but, it lessee suffers from any loss without ending cases, she further admits to compensate for the loss of lessee paying back of all payments together with all expenses.

(c) Lessor admits to lease for (10) years. If fails to keep leasing to (10) Years for any reasons, both parties need to discuss and negotiate as per lessor's will. Any defect happened to building, or any crack in main structure of building for natural disasters during lease period for (10) years shall be undertaken by Lessor.

**Note****

(1) If there will be constructed or maintained on the related land, the parties shall negotiate.

(2) The main terms of the agreement shall be leasing period. If a party is in breach out of any of this agreement, a party shall compensate the lost of the other party.

Both parties having carefully read and understood the terms and conditions mentioned above sign hereunder in the presence of the following witnesses in their own free will.

| **Lessor** | **Lessee** |
|---|---|
| Daw Li Li San (A) Daw Yin Lee Yint<br>(13/Ma Sa Ta (Pyu) 000052) | Mr. Hung Chi Wai<br>( Passport No. KJ 0542829 )<br>Myanmar Wide Garment Co.,Ltd |

**Witness**

1. ----------------------------------------
----------------------------------------
----------------------------------------

2. ----------------------------------------
----------------------------------------
----------------------------------------

**Myanmar Wide Garment Company Limited**

**Annual Payment for Land Lease**

| No. | Area (sqm) | Rate (USD) | Annual Lease Amount | Remark |
|---|---|---|---|---|
| 1 | 5625 | 3 | 16,875 | |
| 2 | 5625 | 3 | 16,875 | |
| 3 | 5625 | 3 | 16,875 | |
| 4 | 5625 | 3 | 16,875 | |
| 5 | 5625 | 3 | 16,875 | |
| 6 | 5625 | 3 | 16,875 | |
| 7 | 5625 | 3 | 16,875 | |
| 8 | 5625 | 3 | 16,875 | |
| 9 | 5625 | 3 | 16,875 | |
| 10 | 5625 | 3 | 16,875 | |
| **Total** | | | **168,750** | |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန

စာအမှတ် ၊ ရကစ/မြို့ပြမြေစီမံ - ၂၀၀၃ (၁၅၅)
ရက်စွဲ ၊ ၂၀၀၃ခုနှစ်၊ မေလ ၃၀ ရက်

အကြောင်းအရာ။ ၁၉၅၃ ခုနှစ်၊ လယ်ယာမြေနိုင်ငံပိုင် ပြုလုပ်ရေး အက်ဥပဒေပုဒ်မ ၃(ခ)အရ လယ်ယာမြေတွင် အကျုံးမဝင်ကြောင်း ဝန်ခံချက် လက်မှတ်ထုတ်ပေးခြင်း

အောက်ဖော်ပြပါမြေသည် ၁၉၅၃ ခုနှစ်၊ လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေး အက်ဥပဒေပုဒ်မ ၃(ခ)အရ လယ်ယာမြေဟူသော စကားရပ်တွင် အကျုံးမဝင်ကြောင်း ဝန်ခံချက်လက်မှတ် ထုတ်ပေးလိုက်ပါသည် -

(က) မြို့နယ် မင်္ဂလာဒုံ ရပ်ကွက် သန္တာပင်ကျေးရွာ
(ခ) မြေတိုင်းရပ်ကွက် ၅၂၁ အေ
(ဂ) မြေကွက်အမှတ် ၃၆
(ဃ) ဧရိယာ (၂. ၂၄)ဧက အနက်မှ (၀. ၆၄)ဧက
(င) မြေစာရင်းအမည်ပေါက် မောင်အောင်မင်း
(စ) မြေအမျိုးအစား B - မြေ
(ဆ) မြေကွက်တည်နေရာလိပ်စာ အမှတ် (၉၉)၊ ကိုးလုံးကွင်း၊ သန္တာပင်ကျေးရွာ မှော်ဘီမြို့နယ်

၂၉. ၅. ၂၀၀၃
ဌာနမှူး

ဦးစံရ (၁၂/မဘန(နိုင်)၀၀၈၅၂၂)
မဂလဒ - ၃(ခ) ၅/ ၂၀၀၂
အမှတ်(၉၉)၊ ကိုးလုံးကွင်း၊
သန္တာပင်ကျေးရွာ၊ မှော်ဘီမြို့နယ်

မိတ္တူကို

- ဒုတိယဌာနမှူး၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန
- ဒုတိယညွှန်ကြားရေးမှူး၊ တိုင်းမြေစာရင်းဦးစီးဌာန၊ ဗိုလ်အောင်ကျော်လမ်း၊ ရန်ကုန်မြို့။
- ဥက္ကဋ္ဌ၊ မြို့နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ(မင်္ဂလာဒုံမြို့နယ်)။
- ဌာနခွဲမှူး၊ မြေတိုင်းဌာနစိတ်သို့ မြို့မြေစာရင်းတွင် မှတ်သားရန် ပေးပို့ပါသည်။
- မျှောစာတွဲ
- ရုံးလက်ခံ

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန

စာအမှတ် ၊ ရကစ/မြို့ပြမြေစီမံ - ၂၀၀၃ (၁၇၅၆)
ရက်စွဲ ၊ ၂၀၀၃ခုနှစ်၊ မေလ ၃၁ ရက်

အကြောင်းအရာ။ ၁၉၅၃ ခုနှစ်၊ လယ်ယာမြေနိုင်ငံပိုင် ပြုလုပ်ရေး အက်ဥပဒေပုဒ်မ ၃(ခ)အရ လယ်ယာမြေတွင် အကျုံးမဝင်ကြောင်း ဝန်ခံချက် လက်မှတ်ထုတ်ပေးခြင်း

အောက်ဖော်ပြပါမြေသည် ၁၉၅၃ ခုနှစ်၊ လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေး အက်ဥပဒေပုဒ်မ ၃(ခ)အရ လယ်ယာမြေဟူသော စကားရပ်တွင် အကျုံးမဝင်ကြောင်း ဝန်ခံချက်လက်မှတ် ထုတ်ပေးလိုက်ပါသည် - -

(က) မြို့နယ် မင်္ဂလာဒုံ ရပ်ကွက် သန္တေပင်ကျေးရွာ
(ခ) မြေတိုင်းရပ်ကွက် ၅၂၁ အေ
(ဂ) မြေကွက်အမှတ် ၈၁ /က
(ဃ) ဧရိယာ (၁. ၂၆)ဧက အနက်မှ (၀. ၇၅)ဧက
(င) မြေစာရင်းအမည်ပေါက် မောင်သာဇံ
(စ) မြေအမျိုးအစား B - မြေ (ဥယျာဉ်)
(ဆ) မြေကွက်တည်နေရာလိပ်စာ အမှတ် (၉၉)၊ ကိုးလုံးကွင်း၊ သန္တေပင်ကျေးရွာ
မှော်ဘီမြို့နယ်

၂၆ - ၅ - ၂၀၀၃
ဌာနမှူး

ဦးစံရ (၁၂/မဘန(နိုင်)၀၀၈၅၂၂)
မဂလဒ - ၃(ခ) ၄/ ၂၀၀၂
အမှတ်(၉၉)၊ ကိုးလုံးကွင်း၊
သန္တေပင်ကျေးရွာ၊ မှော်ဘီမြို့နယ်

မိတ္တူကို

- ဒုတိယဌာနမှူး၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန
- ဒုတိယညွှန်ကြားရေးမှူး၊ တိုင်းမြေစာရင်းဦးစီးဌာန၊ ဗိုလ်အောင်ကျော်လမ်း၊ ရန်ကုန်မြို့။
- ဥက္ကဌ၊ မြို့နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ(မင်္ဂလာဒုံမြို့နယ်)။
- ဌာနခွဲမှူး၊ မြေတိုင်းဌာနစိတ်သို့ မြို့မြေစာရင်းတွင် မှတ်သားရန် ပေးပို့ပါသည်။
- မျှောစာတွဲ
- ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
REPUBLIC OF THE UNION OF MYANMAR
အခွန်တံဆိပ်ခေါင်း
REVENUE STAMP
၄၀၀ ကျပ် ငွေလေးရာကျပ် K 400

# "နှစ်ဦးသဘောတူ အိမ်ခြံမြေအပြီးအပိုင် အရောင်းအဝယ်စာချုပ်"

ရက်စွဲ။ ။ ၂၀၁၅ ခုနှစ် ၊ မတ်လ ၊ (၅) ရက်။

ရန်ကုန်တိုင်းဒေသကြီး ၊ မင်္ဂလာဒုံ မြို့နယ် တွင် အောက်အမည်ပါသူတို့သည် ဤနှစ်ဦးသဘောတူ အိမ်ခြံမြေအပြီးအပိုင် အရောင်းအဝယ်စာချုပ် ကိုပြုလုပ်ချုပ်ဆို ပါသည်။

အပိုင်ရောင်းသူ ။ ။ ဦးစံရ (၁၂/မဘန(နိုင်)၀၀၈၅၂၂)
အမှတ်(၉၉)၊ ကိုးလုံးကွင်း၊ သန္တေပင်ကျေးရွာ၊ မှော်ဘီ မြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။

အပိုင်ဝယ်ယူသူ ။ ။ Yin Lee Yint (ခ) လီလီစမ်း (၁၃/မဆတ(ပြု) ၀၀၀၀၅၂)
အမှတ်(၇၅)၊ မနော်ဟရီလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(အထက်အမည်ပါ အပိုင်ရောင်းချသူနှင့် အပိုင်ဝယ်ယူသူဟုဆိုရာ၌ အဆိုပါ အပိုင်ရောင်းချသူနှင့် အပိုင်ဝယ်ယူ သူတို့ ကိုယ်တိုင်အပြင် ၎င်းတို့၏ အမွေစားအမွေခံများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ကိုယ်စားပြုသူများအားလုံး ပါဝင်သည် ဟု နားလည်သဘောပေါက်ကြပါသည်။ )

၁။ အောက်ပါပစ္စည်းစာရင်းတွင် အသေးစိတ်ဖော်ပြထားသော မြေကွက်နှင့်ယင်းမြေကွက်ပေါ်ရှိ အဆောက်အဦး အပါ အဝင် အကျိုးခံစားခွင့် အရပ်ရပ်တို့ကို အထက်အမည်ပါ အပိုင်ရောင်းသူက ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာနတွင် အမည်ပေါက်သူများထံမှဝယ်ယူ ပိုင်ဆိုင်ခဲ့ပါသည်။ အထက်အမည်ပါ အပိုင်ရောင်းချသူ သည် အောက်စာရင်းပါ မြေကွက်နှင့် ယင်းမြေကွက်ပေါ်ရှိ အဆောက်အဦး အပါအဝင် အကျိုးခံစားခွင့် အရပ်ရပ်တို့ကို အရှုပ်အရှင်းကင်းစွာဖြင့် ပိုင်ဆိုင်ပြီး၊ အမွေစားအမွေခံ၊ အပေါင်အနှံကင်းရှင်း၍ အခြားသူတစ်ပါးတို့ထံ ရောင်းချပေးကမ်း ထားခြင်း ၊ စွန့်လွှတ်ခြင်း ၊ လှူဒါန်းထားခြင်း ၊ အာမခံအဖြစ် တင်သွင်းထားခြင်းတို့မှ လုံးဝကင်းရှင်းကြောင်း ဝန်ခံလျက် အောက်ဖော်ပြပါ ပစ္စည်းများကို အပိုင်ဝယ်ယူသူသို့ ကာလတန်ဖိုးငွေကျပ် (၃၀,၀၀၀,၀၀၀/-) (ကျပ်သိန်းသုံးရာ) တိတိ ဖြင့်အပြီးအပိုင်ရောင်းချရန် စကားကမ်းလှမ်းရာ အပိုင်ဝယ်ယူသူမှလည်း အဆိုပါ တန်ဖိုးငွေဖြင့်ဝယ်ယူရန် သဘောတူ ပါသည်။

၂။ ထို့ကြောင့် အထက်အမည်ပါ အပိုင်ဝယ်ယူသူက ရောင်းချသော နှစ်ဦးသဘောတူထားသည့် တန်ဖိုးငွေများကို အပိုင် ရောင်းချသူသို့ ပေးချေရာ အပိုင်ရောင်းချသူမှလည်း နှစ်ဦးသဘောတူထားသည့် ငွေကိုအပြည့်အဝလက်ခံ ရရှိပြီးကြောင်း ဝန်ခံကတိပြုပါသည်။

၃။ ရောင်းချသူမှ မိမိရောင်းချသော အောက်စာရင်းပါပစ္စည်းများအပြင် ယင်းနှင့်ဆက်နွယ်ပတ်သက်သည့်စာချုပ်စာတမ်း အခြားမြေစာ စာရွက်စာတမ်းများ အစရှိသည်တို့ကို အပိုင်ဝယ်ယူသူသို့ ပေးအပ်ရာ အပိုင်ဝယ်ယူသူကလည်း လက်ခံရရှိ ကြောင်း ဝန်ခံကတိပြုပါသည်။

စာမျက်နှာ - ၂ သို့ /-

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
REPUBLIC OF THE UNION OF MYANMAR
အခွန်တံဆိပ်ခေါင်း
REVENUE STAMP
၄၀၀ ကျပ် ငွေလေးရာကျပ် K 400



၄။ အထက်အမည်ပါ အပိုင်ရောင်းချသူက ထုတ်ဖော်ဝန်ခံသည်မှာ ယခု မိမိရောင်းချလိုက်သော အောက်စာရင်းပါ မြေကွက်နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦး အပါအဝင် အကျိုးခံစားခွင့် အရပ်ရပ်တို့နှင့် ပတ်သက်၍ နောက်နောင် အခြားသူတစ်ဦး တစ်ယောက်ထံမှ ပိုင်ဆိုင်ခွင့်နှင့် ပတ်သက်၍ တစ်နည်းနည်းဖြင့် အရှုပ်အရှင်း တစ်စုံတစ်ရာပေါ်ပေါက် လာပါက အပိုင်ရောင်းချသူက မိမိ၏စရိတ်ဖြင့် ပြီးဆုံးပြေလည်သည့်တိုင်အောင် လိုက်လံဖြေရှင်းပေးပါမည်။ အကယ်၍ ယင်းကဲ့သို့ လိုက်လံဖြေရှင်းပေးပါလျက် မပြီးပြတ်ဘဲ အပိုင်ဝယ်ယူသူ၌ ပစ္စည်းလက်လွှတ်နစ်နာဆုံးရှုံးခဲ့ပါလျှင် ယင်းသို့ နစ်နာဆုံးရှုံး ကုန်ကျသမျှ အရပ်ရပ် စရိတ်ကြေးငွေများနှင့်တကွ ယခုရောင်းချသော အောက်စာရင်းပါပစ္စည်းများ၏ တန်ဖိုးငွေကိုပါ တစ်ပါတည်း ပြန်လည်ပေးလျော်ပါမည်ဟု အပိုင်ရောင်းချသူက ဝန်ခံကတိပြုပါသည်။

၅။ ရန်ကုန်မြို့ စာချုပ်စာတမ်း မှတ်ပုံတင်ရုံးတွင် အရောင်းအဝယ် မှတ်ပုံတင်စာချုပ်ချုပ်ဆိုနိုင်ရန်အတွက် ရောင်းချသူ ဘက်မှ တာဝန်ယူကာ ဝယ်ယူသူအလိုရှိသည့်အချိန်တွင် ဆောင်ရွက်ပေးရန်နှင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီတွင် ဝယ်သူအမည်ပေါက်သည်အထိ ဆောင်ရွက်ပေးပါမည်ဟု ဝန်ခံကတိပြုပါသည်။

၆။ အောက်စာရင်းပါ မြေကွက်နှင့်ယင်းမြေကွက်ပေါ်ရှိ အဆောက်အဦးနှင့်ပတ်သက်၍ ပေးဆောင်ရန်ရှိသော ရေခွန်၊ မြေခွန်၊ လျှပ်စစ်ခွန်စသည့် အခွန်အခများကို ဤစာချုပ်ချုပ်ဆိုသည့်နေ့အထိ ကြွေးကျန်မရှိစေဘဲ၊ အပြေအကြေပေးချေရန် အပိုင်ရောင်းချသူက တာဝန်ယူမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

**"အရောင်းအဝယ်ပြုလုပ်သည့် ပစ္စည်းစာရင်း"**

(၁) ရန်ကုန်တိုင်းဒေသကြီး ၊ မင်္ဂလာဒုံ မြို့နယ်၊ သန္တေပင်ကျေးရွာ ၊ မြေတိုင်းရပ်ကွက် (၅၂၁ အေ) ၊ မြေကွက်အမှတ် (၈၁/က) ၊ ဧရိယာ (၁.၂၆)ဧက အနက်မှ (၀.၇၅)ဧက ရှိ မြေကွက် နှင့် ယင်းမြေကွက်ပေါ်ရှိ အဆောက်အဦး အပါအဝင် အကျိုးခံစားခွင့် အရပ်ရပ်အားလုံး၊

(၂) ရန်ကုန်တိုင်းဒေသကြီး ၊ မင်္ဂလာဒုံ မြို့နယ်၊ သန္တေပင်ကျေးရွာ ၊ မြေတိုင်းရပ်ကွက် (၅၂၁ အေ) ၊ မြေကွက်အမှတ် (၇၆) ၊ ဧရိယာ (၂.၂၄)ဧက အနက်မှ (၀.၆၄) ဧကရှိ မြေကွက်နှင့် ယင်းမြေကွက်ပေါ်ရှိ အဆောက်အဦး အပါအဝင် အကျိုးခံစားခွင့် အရပ်ရပ်အားလုံးတို့ကိုရောင်းချခြင်းဖြစ်ပါသည်။

အထက်စာချုပ်ပါ စကားရပ်များကို အပိုင်ရောင်းချသူနှင့် အပိုင်ဝယ်သူတို့ ကိုယ်တိုင်ဖတ်ရှုသိရှိ နားလည် သဘောပေါက်ကြသဖြင့် အောက်ပါအသိသက်သေများ ရှေ့တွင် ဤ နှစ်ဦးသဘောတူ အိမ်ခြံမြေအပြီးအပိုင်အရောင်းအဝယ် စာချုပ်ကို မိမိတို့၏ လွတ်လပ်သောသဘောဆန္ဒဖြင့် လက်မှတ်ရေး ထိုးချုပ်ဆိုကြသည်။

| | |
|---|---|
| အပိုင်ရောင်းသူ | အပိုင်ဝယ်သူ |
| (signed) | (signed) |
| ဦးစံရ | Yin Lee Yint (ခ) ဒေါ်လီလီစမ်း |
| (၁၂/မဘန(နိုင်)၀၀၈၅၂၂) | (၁၃/မဆတ(ပြု) ၀၀၀၀၅၂) |

အသိသက်သေများ

| | |
|---|---|
| ၁။ ......(signed)...... | ၂။ ......(signed)...... |
| အမည် ဒေါ်ခင်ငွေးရီ | အမည် ဒေါ်လှရှိလင့် (ခ) လှဟုန် |
| မှတ်ပုံတင်အမှတ် -၁၂/မဘန(နိုင်) ၀၁၅၁၁၈ | မှတ်ပုံတင်အမှတ် ၁၃/သပန(ပြု) ၀၀၀၀၅၅ |
| လိပ်စာ- အမှတ်(၂/အေ)၊ ၇လွှာ၊ ကြံခင်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။ | လိပ်စာ- တိုက် (၄၆/အေ)၊ အခန်း (4-B)၊ ပန်းတျာလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်

UNION OF MYANMAR

အခွန်တံဆိပ်ခေါင်း

REVENUE STAMP

၁၀၀၀ကျပ် ငွေ တစ် ထောင် ကျပ် K1000

# "နှစ်ဦးသဘောတူ အိမ်ခြံမြေအပြီးအပိုင် အရောင်းအဝယ်စာချုပ်"

ရက်စွဲ။ ။ ၂၀၀၀ခုနှစ်၊ ဇွန်လ ၊ (၁) ရက်။

ရောင်းသူ ။ ။ ဦးသာဇံ
အမှတ်(၉၉)၊ ကိုးလုံးကွင်း၊ သခွေပင်ကျေးရွာ၊ မှော်ဘီ မြို့နယ်၊ ရန်ကုန်တိုင်း။

ဝယ်သူ ။ ။ ဦးစံရ (၁၂/မဘန(နိုင်)၀၀၈၅၂၂)
အမှတ်(၉၉)၊ ကိုးလုံးကွင်း၊ သခွေပင်ကျေးရွာ၊ မှော်ဘီ မြို့နယ်၊ ရန်ကုန်တိုင်း။

<u>အရောင်းအဝယ်ပြုလုပ်သည့် ပစ္စည်းစာရင်း</u> - ရန်ကုန်တိုင်း၊ ~~မင်္ဂလာဒုံ~~ မြို့နယ်၊ သခွေပင်ကျေးရွာ ၊ မြေတိုင်းရပ်ကွက် (၅၂၁ အေ) ၊ မြေကွက်အမှတ် (၈၁/က) ၊ ဧရိယာ (၁.၂၆)ဧက အနက်မှ (၀.၇၅) ဧက ရှိ မြေကွက် နှင့် ယင်းမြေကွက်ပေါ်ရှိ အဆောက်အဦး အပါအဝင် အကျိုးခံစားခွင့် အရပ်ရပ်အားလုံး။

၁။ ရောင်းသူက မိမိသာ တရားဝင်ပိုင်ဆိုင် အကျိုးခံစားခွင့် ရှိနေသည့် ဖော်ပြပါ မြေကွက်နှင့်ယင်းမြေကွက်ပေါ်ရှိ အဆောက်အဦး အပါအဝင် အကျိုးခံစားခွင့်အရပ်ရပ်ကို တန်ဘိုးငွေ ကျပ် (၁၂၀၀,၀၀၀) (တစ်ဆယ့်နှစ်သိန်း) တိတိ ဖြင့် ရောင်းချရန် စကားကမ်းလှမ်းရာ ဝယ်သူများက အဆိုပါ တန်ဘိုးဖြင့် ဝယ်ယူရန် သဘောတူပါသည်။

၂။ ယနေ့စာချုပ်ချုပ်ဆိုသောနေ့တွင် နှစ်ဦးသဘောတူထားသည့် ငွေကို ဝယ်ယူသူမှ ရောင်းချသူသို့ပေးချေရာ ရောင်းချသူမှ အပြည့်အဝ လက်ခံရရှိပြီးဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၃။ အထက်အမည်ပါရောင်းသူက ဝန်ခံကတိပြုသည်မှာ မိမိပိုင်ဖြစ်သော ယခုရောင်းချသည့်ပစ္စည်း ပိုင်ဆိုင်ခွင့်နှင့် ပတ်သက်၍ တစ်နည်းနည်းဖြင့် အရှုပ်အရှင်းတစ်စုံတစ်ရာပေါ်ပေါက်လာပါက အထက်အမည်ပါ အပိုင်ရောင်းသူက မိမိစရိတ်ဖြင့် ပြီးဆုံးပြေလည်သည့်တိုင်အောင် လိုက်လံထုချေရှင်းလင်းပေးပါမည်။ ရောင်းသူမှ ရောင်းချသည့် အိမ်ခြံမြေနှင့် ၎င်းနှင့်စပ်ဆိုင်သော စာရွက်စာတမ်းများကို တ[illegible]ပက်ရောက လွှဲပြောင်း ပေးအပ်ရာဝယ်ယူသူမှ လက်ခံရရှိပြီးကြောင်း ဝန်ခံကတိပြုပါသည်။ ရောင်းချသည့် အိမ်ခြံမြေကွက်နှင့် ပတ်သက်၍ စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်စာချုပ်ကြီးချုပ်ဆိုပေးပြီး ဝယ်သူ အမည်ပေါက် ရရှိသည်အထိ ရောင်းသူလုပ်ဆောင်ပေးရမည့်ကိစ္စများကို လိုက်ပါဆောင်ရွက်ပေးပါမည်ဟု ဝန်ခံကတိပြုပါသည်။

၄။ အထက်စာချုပ်ပါ စကားရပ်များကို ရောင်းချသူ နှင့် ဝယ်ယူသူတို့ကိုယ်တိုင် ဖတ်ရှုသိရှိ နားလည်သဘောပေါက်သဖြင့် အောက်ပါ အသိသက်သေများရှေ့တွင် ဤ နှစ်ဦးသဘောတူ အိမ်ခြံမြေ အရောင်းအဝယ်စာချုပ် ကိုပြုလုပ် ချုပ်ဆိုကြခြင်း ဖြစ်ပါသည်။

<u>ရောင်းသူ</u> <u>ဝယ်သူ</u>

ဦးသာဇံ ဦးစံရ

<u>အသိသက်သေများ</u>

၁။ ..............................

အမည် ဒေါ်ညွန့်ညွန့်နွယ်
မှတ်ပုံတင်အမှတ် - ၁၂/သခန(နိုင်) ၀၃၈၂၉၉
လိပ်စာ- အမှတ်(၃၀/၁)၊ မိုးဆွေလမ်း၊ (၁၄/၂)ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်။

၂။ ..............................

အမည် ဒေါ်ခင်ဆွေရီ
မှတ်ပုံတင်အမှတ် ၁၂/မဘန (နိုင်) ၀၁၅၁၁၈
လိပ်စာ- အမှတ်(၂/အေ)၊ ဂုလ္လာ) ကြံခင်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။

ပြည်ထောင်စုမြန်မာနိုင်ငံတော်

UNION OF MYANMAR

အခွန်တံဆိပ်ခေါင်း

REVENUE STAMP

၁၀၀၀ကျပ် ငွေတစ်ထောင်ကျပ် K1000

# "နှစ်ဦးသဘောတူ အိမ်ခြံမြေအပြီးအပိုင် အရောင်းအဝယ်စာချုပ်"

ရက်စွဲ။ ။ ၂၀၀၀ခုနှစ်မေလ ( (၁၅) ရက်။

ရောင်းသူ ။ ။ ဦးအောင်မင်း
အမှတ်(၉၉)၊ ကိုးလုံးကွင်း၊ သန္တေပင်ကျေးရွာ၊ မှော်ဘီ မြို့နယ်၊ ရန်ကုန်တိုင်း။

ဝယ်သူ ။ ။ ဦးစံရ (၁၂/မဘန(နိုင်)၀၀၈၅၂၂)
အမှတ်(၉၉)၊ ကိုးလုံးကွင်း၊ သန္တေပင်ကျေးရွာ၊ မှော်ဘီ မြို့နယ်၊ ရန်ကုန်တိုင်း။

<u>အရောင်းအဝယ်ပြုလုပ်သည့် ပစ္စည်းစာရင်း</u> - ရန်ကုန်တိုင်း၊ ~~မင်္ဂလာဒုံ~~ မြို့နယ်၊ သန္တေပင်ကျေးရွာ ၊ မြေတိုင်းရပ်ကွက် (၅၂၁ အေ) ၊ မြေကွက်အမှတ် (၁၆) ၊ ဧရိယာ (၂.၂၄)ဧက အနက်မှ (၀.၆၄) ဧက ရှိ မြေကွက် နှင့် ယင်းမြေကွက်ပေါ်ရှိ အဆောက်အဦး အပါအဝင် အကျိုးခံစားခွင့် အရပ်ရပ်အားလုံး။

၁။ ရောင်းသူက မိမိသာ တရားဝင်ပိုင်ဆိုင် အကျိုးခံစားခွင့် ရှိနေသည့် ဖော်ပြပါ မြေကွက်နှင့်ယင်းမြေကွက်ပေါ်ရှိ အဆောက်အဦး အပါအဝင် အကျိုးခံစားခွင့်အရပ်ရပ်ကို တန်ဘိုးငွေ ကျပ် (၁,၀၀၀,၀၀၀) (တစ်ဆယ်သိန်း) တိတိ ဖြင့် ရောင်းချရန် စကားကမ်းလှမ်းရာ ဝယ်သူများက အဆိုပါ တန်ဘိုးဖြင့် ဝယ်ယူရန် သဘောတူပါသည်။

၂။ ယနေ့စာချုပ်ချုပ်ဆိုသောနေ့တွင် နှစ်ဦးသဘောတူထားသည့် ငွေကို ဝယ်ယူသူမှ ရောင်းချသူသို့ပေးချေရာ ရောင်းချသူမှ အပြည့်အဝ လက်ခံရရှိပြီးဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၃။ အထက်အမည်ပါရောင်းသူက ဝန်ခံကတိပြုသည်မှာ မိမိပိုင်ဖြစ်သော ယခုရောင်းချသည့်ပစ္စည်း ပိုင်ဆိုင်ခွင့်နှင့် ပတ်သက်၍ တစ်နည်းနည်းဖြင့် အရှုပ်အရှင်းတစ်စုံတစ်ရာပေါ်ပေါက်လာပါက အထက်အမည်ပါ အဖိုင်ရောင်းသူက မိမိစရိတ်ဖြင့် ပြီးဆုံး ပြေလည်သည့်တိုင်အောင် လိုက်လံ၍ရှင်းလင်းပေးပါမည်။ ရောင်းသူမှ ရောင်းချသည့် အိမ်ခြံမြေနှင့် ၎င်းနှင့်စပ်ဆိုင်သော ရှက်စာတမ်းများကို [illegible]ကိရောင်း၍ လွှဲပြောင်း ပေးအပ်ရာဝယ်ယူသူမှ လက်ခံရရှိပြီးကြောင်း ဝန်ခံကတိပြုပါသည်။ ရောင်းချသည့် အိမ်ခြံမြေကွက်နှင့် ပတ်သက်၍ စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်စာချုပ်ကြီးချုပ်ဆိုပေးပြီး ဝယ်သူ အမည်ပေါက် ရရှိသည်အထိ ရောင်းသူလုပ်ဆောင်ပေးရမည့်ကိစ္စများကို လိုက်ပါဆောင်ရွက်ပေးပါမည်ဟု ဝန်ခံကတိပြုပါသည်။

၄။ အထက်စာချုပ်ပါ စကားရပ်များကို ရောင်းချသူ နှင့် ဝယ်ယူသူတို့ကိုယ်တိုင် ဖတ်ရှုသိရှိ နားလည်သဘောပေါက်သဖြင့် အောက်ပါ အသိသက်သေများရှေ့တွင် ဤ နှစ်ဦးသဘောတူ အိမ်ခြံမြေ အရောင်းအဝယ်စာချုပ် ကိုပြုလုပ် ချုပ်ဆိုကြခြင်း ဖြစ်ပါသည်။

| <u>ရောင်းသူ</u> | <u>ဝယ်သူ</u> |
|---|---|
| ဦးအောင်မင်း | ဦးစံရ |

<u>အသိသက်သေများ</u>

| | |
|---|---|
| ၁။ ........................ | ၂။ ........................ |
| အမည် ဒေါ်ညွန့်ညွန့်နွယ် | အမည် ဒေါ်ခင်ရွှေရီ |
| မှတ်ပုံတင်အမှတ် - ၁၂/သခန(နိုင်) ၀၃၈၂၉၉ | မှတ်ပုံတင်အမှတ် ၁၂/မဘန (နိုင်) ၀၁၅၁၁၈ |
| လိပ်စာ- အမှတ်(၃၀/၁)၊ မိုးဆွေလမ်း၊ (၁၄/၂)ရပ်ကွက်၊ | လိပ်စာ- အမှတ်(၂/အေ)၊ ဂုလ္လာ) ကြံခင်းလမ်း၊ |
| တောင်ဥက္ကလာပမြို့နယ်။ | စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။ |

# ထောက်ခံချက်

ရက်စွဲ။ ၂၀၁၇ ခုနှစ်၊ စက်တင်ဘာလ (      )ရက်

အကြောင်းအရာ။ Myanmar Wide Garment Factory တည်ဆောက်ခြင်း

ရန်ကုန်တိုင်းဒေသကြီးအတွင်း နေထိုင်သည့် နိုင်ငံသားမှတ်ပုံတင်အမှတ်၊ ၁၃/မဆတ(နိုင်) ၀၀၀၀၅၂ ကိုင်ဆောင်သူ ဒေါ်ရင်လီရင့်(ခ)လီလီစမ်း ပိုင်ဆိုင်သည့် မြေကွက်များဖြစ်သည့် ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ သနပ်ပင်ကျေးရွာ၊ မြေတိုင်းရပ်ကွက် (၅၂၁ အေ)၊ မြေကွက်အမှတ် (၃၆) နှင့် (၈၁/က)တို့ပေါ်တွင် အသစ်တည်ဆောက်မည့် Myanmar Wide Garment အထည်ချုပ် စက်ရုံလုပ်ငန်းနှင့် ပတ်သက်၍ ပတ်ဝန်းကျင်ကို တစ်စုံတစ်ရာ အနှောက်အယှက် ဖြစ်စေခြင်းမရှိသည့်အတွက် ကန့်ကွက်ရန် မရှိကြောင်း ထောက်ခံအပ်ပါသည်။

ရပ်ကွက်အုပ်ချုပ်ရေးမှူး

ပတ်ဝန်းကျင်မှ ထောက်ခံသူများ

| လက်မှတ် | အမည် | နေရပ်လိပ်စာ/ဖုန်းနံပါတ် |
|---|---|---|
| ၁။ (လက်မှတ်) | ဦး … (handwritten) | (handwritten) |
| ၂။ (လက်မှတ်) | ဒေါ် … (handwritten) | (handwritten) |
| ၃။ (လက်မှတ်) | ဦး … (handwritten) | (handwritten) |
| ၄။ (လက်မှတ်) | ဦး … (handwritten) | (handwritten) |

013262

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာဝိုက်ဂါးမန့် ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

နှင့်

# သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖

**THE MYANMAR COMPANIES ACT**

**PRIVATE COMPANY LIMITED BY SHARES**

# Memorandum Of Association

*AND*

# Articles Of Association

*OF*

Myanmar Wide Garment **COMPANY LIMITED**

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာပိုက်ဂါးမန့် ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

❖❖❖❖❖❖❖❖

၁။ ကုမ္ပဏီ၏အမည်သည် မြန်မာပိုက်ဂါးမန့် ကုမ္ပဏီ လီမိတက် ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်းဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် USD 2,000,000 /-( ကျပ် USD Two Million တိတိ ) ဖြစ်၍ငွေကျပ် USD 100 /-( ကျပ် USD one hundred တိတိ ) တန် အစုရှယ်ယာပေါင်း ( 20,000 ) ခွဲထားပါသည်။ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသောတရားဥပဒေ အထွေထွေပဋ္ဌာန်းချက်များနှင့်အညီ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

(၂)

၆။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ

1. CMP စနစ် အထည်ချုပ်လုပ်ငန်း

၇။ ကုမ္ပဏီမှ သင့်တော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိ စေရန် အတွက် မည့်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်း များကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန် ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ ပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထား ရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏အမည်၊ နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | Grandford International Trading Limited.<br>Represented by-<br>(a) Mr. Hung Chi Wai<br>Room A 1202,12/F, Wing Cheung Industrial Building, 58-70 Kwai Cheong Road, Kwai Chung, N.T., Hong Kong.<br>(ကုန်သည်) | Chinese<br>KJ 0542829 | ၃၄၆၅ | |
| ၂။ | ဒေါ်ရင်လီရင့် (ခ) လီလီစမ်း<br>အမှတ် - ၇၅၊ မနော်ဟရီလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်၊ မြန်မာ။<br>(ကုန်သည်) | မြန်မာ<br>၁၃/မဆတ(ပြု)၀၀၀၀၅၂ | ၄၂၃၅ | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာ လ၊ ၀၂ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာဝိုက်ဂါးမန့် ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖❖❖❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမ ဇယားပုံစံ 'က' ပါစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့်အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့်မသက်ဆိုင်သောကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ်အထိသာကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက်ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် USD 2,000,000 /-( ကျပ် USD Two Million တိတိ )ဖြစ်၍ ငွေကျပ် USD 100 /-( ကျပ် USD One Hundred တိတိ )တန် အစုရှယ်ယာပေါင်း ( 20,000 ) ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိဟရားဝင်တည်ဆဲဖြစ်နေသောတရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း တို့ကိုဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာ လက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့ကသတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏ တံဆိပ် ရိုက်နှိပ် ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်းထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာ များကအသိအမှတ်ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာတောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့်အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း ( ၁၀ ) ဦးထက်မများစေရ။
ပထမဒါရိုက်တာများသည် –
(၁) Mr. Hung Chi Wai
(၂) ဒေါ်ရင်လီရင့် (ခ) လီလီစမ်း
(၃)
(၄)
(၅)

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေးဂျင်းဒါရိုက်တာ အဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဉာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး (–)စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့ သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည်အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲ တမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်း ကောင်း အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ် ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့ အပြင် အဆိုပါကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကို ဖြစ်စေ၊ တစ်စိတ် တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အထူးအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဖယောင်းတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့် အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည် ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | Grandford International Trading Limited.<br>Represented by-<br>(a) Mr. Hung Chi Wai<br>Room A 1202,12/F, Wing Cheung Industrial Building, 58-70 Kwai Cheong Road, Kwai Chung, N.T., Hong Kong.<br>(ကုန်သည်) | Chinese<br>KJ 0542829 | ၃၄၆၅ | |
| ၂။ | ဒေါ်ရင်လီရင့် (ခ) လီလီစမ်း<br>အမှတ် - ၇၅၊ မနော်ဟရီလမ်း၊<br>ဒဂုံမြို့နယ်၊ ရန်ကုန်၊ မြန်မာ။<br>(ကုန်သည်) | မြန်မာ<br>၁၃/မဆတ<br>(ပြု)၀၀၀၀၅၂ | ၄၂၃၅ | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာ လ၊ ၀၂ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

## MYANMAR WIDE GARMENT COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

I. The name of the Company is MYANMAR WIDE GARMENT COMPANY LIMITED.

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks. USD 2,000,000 /- ( Kyats USD Two Million Only ) divided into ( 20,000 ) shares of Ks. USD 100 /- ( Kyats USD One Hundred Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

**6. The Objective For Which The company is established are**

1. Garment with CMP System

7. To borrow money for the benefit of the Company's business from any person, firm,company, bank or financial organization in the manner that the Company shall think fit.

**PROVISO:** Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere,save in so for as it may be entitled so as to do in accordance with the Laws,Orders and Notifications in force from time to time and only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | Grandford International Trading Limited<br>Represented by-<br>(a) Mr. Hung Chi Wai<br>Room A 1202, 12/F, Wing Cheung Industrial Building, 58-70 Kwai Cheong Road, Kwai Chung, N.T., Hong Kong.<br>( Merchant ) | Chinese<br>KJ 542829 | 3465 | |
| 2. | Daw Yin Lee Yint @ Li Li San<br>No.75, Manawhari Street, Dagon T/S, Yangon Region, Myanmar.<br>( Merchant ) | Myanmar<br>13/MaSaTa (Pyu)000052 | 4235 | |

Yangon Dated the 02nd day of October, 2017

*It is hereby certified that the persons mentioned above put their signatures in my presence.*

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

# MYANMAR WIDE GARMENT COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect: -

   *(a) The mumber of the Company , exclusive of persons who are in the employment of the Company, shall be limited to fifty.*

   *(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The authorised capital of the Company is Ks. USD 2,000,000 /- ( Kyats USD Two Million Only ) divided into ( 20,000 ) shares of Ks. USD 100 /- ( Kyats USD One Hundred Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

